





# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၈၃၃....../၂၀၁၂ ။ ၂၀၁၂ ခုနှစ်၊ ဇန်နဝါရီ လ ၁၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ~~ရင်းနှီးမြှုပ်နှံသူ၏ အမည်~~ ဒေါ်ဖြူဖြူလှိုင်

(ခ) အဘ အမည် ...... ဦးစိန်လှိုင်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ...... ၁၂/မဘန (နိုင်) ၀၁၃၈၃၈

(ဃ) နေရပ်လိပ်စာ ...... အမှတ်(၃၈၇)၊အခန်းအမှတ်(၁)၊ စက်မှု(၁)လမ်း၊ ဆရာစံရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် အထည်ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ...... မြေကွက်အမှတ်(၁၅/၁၆)၊ ကျန်စစ်သားလမ်းနှင့် အမရာလမ်းထောင့်၊မြောက်ဥက္ကလာပစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ...... ၂၂၃.၅၂(သန်း) (ကျပ် နှစ်ရာနှစ်ဆယ့်သုံးသန်း၊ ငါးသိန်း၊ နှစ်သောင်းကျော်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၁ /၂၀၁၂ (မနသ)

နေပြည်တော်၊ ၁၃၇၃ ခုနှစ်၊ ပြာသို လပြည့်ကျော် ၉ ရက်

(၂၀၁၂ ခုနှစ်၊ ဇန်နဝါရီ လ ၁၆ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co.,Ltd.) သည် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာ ဒေါ်ဖြူဖြူလှိုင် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပ မြို့နယ်၊ မြောက်ဥက္ကလာပ စက်မှုဇုန်၊ ကျန်စစ်သားလမ်းနှင့် အမရာလမ်းထောင့် ၊ မြေကွက်အမှတ် ၁၅/၁၆ ရှိ မြေ (၀.၆၅၅)ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ တို့အား ငှားရမ်း၍ CMP စနစ်ဖြင့် အထည်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၃-၁-၂၀၁၂) နေ့တွင်ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁/၂၀၁၂) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များ ကို ကျင့်သုံးလျက် ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co.,Ltd.)အား CMP စနစ်ဖြင့် အထည်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက် နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၃၃ /၂၀၁၂ ကို ထုတ်ပေးလိုက်သည်။

၂။ ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co.,Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုသည်။ ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(ခ)အရ လုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေ ဖြင့် ရရှိသည့် အမြတ်ငွေပေါ်တွင် (၅၀%)အထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃)နှစ်ခံစား ပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်

သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co.,Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များအဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co.,Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co.,Ltd.) သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့်အညီ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (မိတ္တူ) (၅)စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်-

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ်( Certificate of Incorporation)

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနက အတည်ပြုပြီးဖြစ်သည့် ကုမ္ပဏီ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းများ(Memorandum and Articles of Association )

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေနှင့် အဆောက်အဦ အငှားချထားသူ ဒေါ်ဖြူဖြူလှိုင် နှင့်အငှားချထားခြင်းခံရသူ ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co.,Ltd.) တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းသဘောတူ စာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ်မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co.,Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၉။ ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co.,Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၀။ ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co.,Ltd.)သည် အဆိုပြုချက်တွင် ဝန်ခံကတိပြုထားသည့်အတိုင်း ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေ အရ ပြည်နယ်/ တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိဆောင်ရွက် ရမည်။

၁၁။ ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co.,Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု

လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၃။ ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co.,Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်း သည့်အထိ အရေးယူခြင်း ခံရမည်။

၁၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၅(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရကာ- ၆(က) /မ- ၁၁၉၁/၂၀၁၂(၀၁၀-၈)

ရက်စွဲ၊ ၂၀၁၂ခုနှစ်၊ ဇန်နဝါရီ လ ၁၇ ရက်။



First Image (Permit).docx

ဖြန့်ဝေခြင်း-

၁။ သမ္မတဦးစီးရုံး။

၂။ ဒုတိယသမ္မတ(၁)ဦးစီးရုံး။

၃။ ဒုတိယသမ္မတ(၂)ဦးစီးရုံး။

၄။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး။

၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၆။ ပြည်ထဲရေးဝန်ကြီးဌာန။

၇။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။

၈။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၉။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၁၀။ အလုပ်သမား ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၁၃။ စက်မှု ဝန်ကြီးဌာန။

၁၄။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၅။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၆။ ဥက္ကဌ ၊CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ။(အလုပ်သမားဝန်ကြီးဌာန)

၁၇။ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ရန်ကုန်မြို့။

၁၈။ ဥက္ကဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၈။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၃၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၃၁။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၃၂။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ အထည်ချုပ်လုပ်ငန်းရှင်များအသင်း၊ ရန်ကုန်။

~~၃၃။ အုပ်ချုပ်မှုဒါရိုက်တာ၊ ပထမပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် (First Image~~ Garment Manufacturing Co.,Ltd.)

လျှို့ဝှက်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(က)/မ-၁၁၉၁/၂၀၁၁(၁၆၄၀၂)
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာ လ ၂၈ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **ပထမ ပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (First Image Garment Manufacturing Co.,Ltd.)မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ ပထမ ပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (First Image Garment Manufacturing Co.,Ltd.)မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ မြောက်ဥက္ကလာပ စက်မှုဇုန်၊ ကျန်စစ်သားလမ်းနှင့် အမရာလမ်းထောင့် ၊ မြေကွက်အမှတ် ၁၅/၁၆ ရှိ မြေ (၀.၆၅၅)ဧကတွင် CMPစနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ဖြူဖြူလှိုင်(အဘ-ဦးစိန်လှိုင်) မှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက် နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့သို့ သဘောထား တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ - က)**

(၁) အဆိုပြုစက်ရုံ လည်ပတ်လုပ်ကိုင်ပါက လုပ်သားအင်အား(၇၈၃)ဦး ခန့်ထားပြီး နည်းပညာ သင်ကြား လေ့ကျင့်ပေးမည်ဖြစ်သဖြင့် အလုပ်အကိုင်ရရှိခြင်း၊ နည်းပညာ တတ်ကျွမ်းစေခြင်းတို့ကြောင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုနှင့် အလုပ်အကိုင်ရရှိမှုအတွက် အထောက်အကူဖြစ်စေမည် ဖြစ်ပါကြောင်း၊

(၂) အဆိုပြုမြေနေရာတွင် လုပ်ငန်း ဆောင်ရွက်သင့်ပြီး လက်ရှိတွင် လုပ်သားအင်အား (၂၇၆)ဦးဖြင့် စမ်းသပ်လုပ်ကိုင်လျက်ရှိပါကြောင်း၊

(၃) သဘာဝပတ်ဝန်းကျင်ကို ထိခိုက်မှုမရှိသည့် လုပ်ငန်းအမျိုးအစား ဖြစ်ပါကြောင်းနှင့်

(၄) ပထမ ပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံထားပါသည်။

(ခ) **ဆောက်လုပ်ရေး ဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း ထောက်ခံထားပါသည် **(နောက်ဆက်တွဲ - ခ)** ။

လျှို့ဝှက်

(ဂ) **CMPလုပ်ငန်းများ ကြီးကြပ်ရေးကော်မတီ** မှ အဆိုပြုစက်ရုံသည် ၂၀၀၈ ခုနှစ်မှစ၍ လုပ်ငန်းလည်ပတ် ဆောင်ရွက်လျက်ရှိပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ခွင့်ပြုချက် ရရှိပါက ပိုမိုတိုးချဲ့ဆောင်ရွက်နိုင်မည်ဖြစ်၍ CMP စနစ်ဖြင့်အထည်ချုပ်လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေး ဆောင်ရွက်သင့်ပါကြောင်း ထောက်ခံထားပါသည် **(နောက်ဆက်တွဲ - ဂ)** ။

(ဃ) **ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ် (RUMFCCI)** မှ ကန့်ကွက်ရန်မရှိပါကြောင်း ထောက်ခံထားပါသည် **(နောက်ဆက်တွဲ - ဃ)** ။

၃။ လျှပ်စစ်ဓါတ်အားကို မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ ရယူမည့်အပြင် ကိုယ်ပိုင်မီးစက်ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၄။ လုပ်ငန်း အဆိုပြုချက်ကို **(နောက်ဆက်တွဲ - င)** ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှ စုစုပေါင်း ကျပ် (၂၂၃.၅၂) သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ တန်ဖိုး ကျပ် (၁၄၀.၆၂)သန်းဖိုးအား ပြည်တွင်းရှိ Yangon Garment Mfg Co., Ltd ကုမ္ပဏီထံမှ စက်ရုံ ဖျက်သိမ်းချိန်တွင် တင်ဒါစနစ်ဖြင့် ရောင်းချသည့် စက်များအား ဝယ်ယူမည်ဖြစ်ကြောင်း နှင့် ငွေသွင်းပြေစာ အထောက်အထားများ တင်ပြထားပါသည်။

| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၂၂၃.၅၂ သန်း |
|---|---|---|
| (က) | ငွေသား | ၇၀.၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၁၄၀.၆၂ |
| (ဂ) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၁၂.၉၀ |

၅။ အဆိုပြုလုပ်ငန်းမှချုပ်လုပ်ပြီးအထည်များကို ပြည်ပသို့ (၁၀၀) ရာခိုင်နှုန်း တင်ပို့ ရောင်းချမည်ဖြစ်ပါသည်။ပုံမှန်နှစ်(၅-နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှုနှင့် CMP လက်ခနှုန်း၊ ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဥ် | အမျိုးအမည် | ထုတ်လုပ်မှု (ဒါဇင်) | CMP လက်ခတစ်ဒါဇင် နှုန်း (US$) | တစ်ဒါဇင် ပြည်တွင်း ရောင်းဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | Pant | ၆၃,၀၀၀ | ၇.၄၀ | ၂၅,၀၀၀ |
| (ခ) | Shirt | ၅၀,၀၀၀ | ၆.၄၀ | ၂၄,၀၀၀ |
| (ဂ) | Skirt | ၅၅,၀၀၀ | ၅.၄၀ | ၁၅,၀၀၀ |
| | **စုစုပေါင်း** | **၁၆၈,၀၀၀** | | |

*လုပ်သားတစ်ဦးလျှင် တစ်နေ့ (၉)ထည်ထုတ်လုပ်နိုင်ပါသည်။

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅-နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေ မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

အမေရိကန်တစ်ဒေါ်လာ= ၆ ကျပ်

| စဉ် | | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျ ပ် ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၁.၀၇၂ | ၆.၄၃၂ | ၃၆ | ၄၂.၄၃၂ |
| (ခ) | အသုံးစရိတ် | ၀.၁၃၁ | ၀.၇၈၆ | ၇၀၄.၁၇၆ | ၇၀၄.၉၆၂ |
| (ဂ) | အသားတင် အမြတ် | ၀.၉၄၁ | ၅.၆၄၆ | (-)၆၆၈.၁၇၆ | (-)၆၆၂.၅၃၀ |

အမေရိကန်တစ်ဒေါ်လာ= ၈၀၀ကျပ်

| စဉ် | | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၁.၀၇၂ | ၈၅၇.၆၀ | ၃၆ | ၈၉၃.၆၀ |
| (ခ) | အသုံးစရိတ် | ၀.၁၃၁ | ၁၀၄.၈၀ | ၇၀၄.၁၇၆ | ၈၀၈.၉၈ |
| (ဂ) | အသားတင် အမြတ် | ၀.၉၄၁ | ၇၅၂.၈၀ | (-)၆၆၈.၁၇၆ | ၈၄.၆၂ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၅-နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ CMP လက်ခရငွေ အပေါ် (၁၀%)အခွန် ဖြတ်တောက်ရရှိငွေ အမေရိကန်ဒေါ်လာ (၀.၁၁)သန်း နှင့် ကုန်သွယ် လုပ်ငန်းခွန် ကျပ် (၃.၆၀ ) သန်း ရရှိမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေ ကာလမှာ(၃)နှစ် (၆)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ(၃၀.၁၆) ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၇၈၃) ဦးနှင့် ပြည်ပလုပ်သား(၂)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေး အတွက် ကြို/ပို့ယာဉ် စီစဉ်ပေးခြင်း၊ အလုပ်ဆင်းချိန် မုန့်ကန်မှု ဆုကြေးပေးခြင်း၊ အချိန်ပို လုပ်အားခပေးခြင်း၊ ထိခိုက်ဒဏ်ရာ ရရှိပါက လူမှုဖူလုံရေး ဆေးခန်းသို့ စေလွှတ်ခြင်း၊ နေ့လည်စာ ထမင်း စီစဉ်ပေးခြင်း၊ မီးဘေး ကာကွယ်မှု အစီ အစဉ်များ စီစဉ်ဆောင်ရွက်ပေးခြင်းများ စီစဉ်ပေးထားပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၉။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာဖြစ်သူ ဒေါ်ဖြူဖြူလှိုင် အမည်ဖြင့် UNITED AMARA ဘဏ်ရှိ(၁၄-၁၀-၂၀၁၁)နေ့ရှိ ငွေလက်ကျန် ကျပ်(၁၂၃.၀၀)သန်း တင်ပြထားရာ သုံးစွဲမည့် ကျပ် (၈၂.၉၀)သန်း၏ (၁၀၀%) ကျော် တင်ပြထားကြောင်း စိစစ်ရပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်

ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည် ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ ကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ နိုင်ငံခြားငွေဖြင့် ရရှိသော CMP အခ ကြေးငွေများကို မြန်မာ့ နိုင်ငံခြား ကုန်သွယ်မှုဘဏ်နှင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်း ရောင်းဝယ်ရေးဘဏ် ရှိ ကုမ္ပဏီ၏ ငွေစာရင်းသို့ မပျက်မကွက် ပေးသွင်းမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၂။ သို့ဖြစ်ပါ၍ ပထမ ပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (First Image Garment Manufacturing Co.,Ltd.) မှ CMP စနစ်ဖြင့် အထည်ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းအပေါ် လမ်းညွှန်မှု ခံယူ အပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အောင်နိုင်ဦး၊ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

၂၂၂၈
၂၈-၁၁-၂၀၁၁

စာအမှတ်၊ ၂ / ၃ - ၆ ( ၃ ) / စီး ပွား
ရက် စွဲ ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၁၁-၂၀၁၁ ရက်စွဲပါ စာအမှတ်၊ ရက - ၆ (က) / မ - ၁၁၉၁ / ၂၀၁၁ (၁၂၈၀၀)

၁။ ပထမပုံရိပ်အထည်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်(First Image Garment Manufacturing Co.,Ltd )မှ ရန်ကုန်အရှေ့ပိုင်းခရိုင်၊ မြောက်ဥက္ကလာပမြို့နယ်၊ မြောက်ဥက္ကလာပစက်မှုဇုန်၊ ကျန်စစ်သားလမ်းနှင့် အမရာလမ်းထောင့်၊ မြေကွက်အမှတ်(၁၅/၁၆) ရှိ မြေကွက်နှစ်ကွက်၊ ဧရိယာ(၀. ၆၅၅)ဧကတွင် CMP စနစ်ဖြင့် အဝတ်အထည်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြချက်အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးရန် ရည်ညွှန်းစာဖြင့်အကြောင်းကြားလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်းသဘောထားမှတ်ချက်တင်ပြအပ်ပါသည် -

(က) အဆိုပြုစက်ရုံလည်ပတ်လုပ်ကိုင်ပါက လုပ်သားအင်အား(၇၈၃)ဦး ခန့်ထားပြီး နည်းပညာသင်ကြားလေ့ကျင့်ပေးမည်ဖြစ်သဖြင့် အလုပ်အကိုင်ရရှိခြင်း၊ နည်းပညာတတ်ကျွမ်းစေခြင်းတို့ကြောင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုနှင့် အလုပ်အကိုင်ရရှိမှုအတွက် အထောက်အကူဖြစ်စေမည်ဖြစ်ပါသည်။

(ခ) အဆိုပြုမြေနေရာတွင် လုပ်ငန်းဆောင်ရွက်သင့်ပြီး လက်ရှိတွင် လုပ်သားအင်အား(၂၇၆)ဦး ဖြင့် စမ်းသပ်လုပ်ကိုင်လျက်ရှိပါသည်။

(ဂ) သဘာဝပတ်ဝန်းကျင်ကိုထိခိုက်မှုမရှိသည့် လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် ၂၄-၁၁-၂၀၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၃၄/၂၀၁၁)၊ ဆုံးဖြတ်ချက်အပိုဒ်(၂၆)အရ ပထမပုံရိပ်အထည်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်(First Image Garment Manufacturing Co.,Ltd )၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

၂၆/၁၁

( မြင့်ဆွေ )
ဝန်ကြီးချုပ်

D/DSNgwe/Lesson(B)/Pg;8

မိတ္တူ၊

-တိုင်းဒေသကြီးဝန်ကြီး၊ သစ်တောနှင့်စွမ်းအင်ဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
-တိုင်းဒေသကြီးဝန်ကြီး၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
-ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
-မြောက်ဥက္ကလာပမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
-ပထမပုံရိပ်အထည်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်(First Image Garment Manufacturing Co.,Ltd)
-လက်ခံစာတွဲ
-မျှောစာတွဲ

နောက်ဆက်တွဲ(ခ)

1-418
24/12





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၂၆ / ခွဲ - ၃ / ၂၀၁၁ (စီ ၉၈၈၄)
ရက် စွဲ၊ ၂၀၁၁ ခုနှစ် ဒီဇင်ဘာလ ၂၁ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်နှီးမြှုပ်နှံမှုကော်မရှင်၏၂၀၁၁ ခုနှစ် နိုဝင်ဘာလ(၉)ရက်နေ့စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၁၉၁/၂၀၁၁(၁၂၈၀၁)

၁။ ပထမပုံရိပ်အထည်ထုတ်လုပ်မှုကုမ္ပဏီလီမိတက် ( First Image Garment Manufacturing Co., Ltd. ) မှ ရန်ကုန်တိုင်းဒေသကြီး ၊ မြောက်ဥက္ကလာပမြို့နယ် ၊ မြောက်ဥက္ကလာပစက်မှုဇုန် ၊ ကျန်စစ်သားလမ်းနှင့်အမရာလမ်းထောင့် ၊ မြေကွက်အမှတ်(၁၅) နှင့် (၁၆)ရှိ မြေနှစ်ကွက်ပေါင်းဧရိယာ(၀.၆၅၅)ဧကပေါ်တွင် CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုချက်တင်ပြခြင်းနှင့်စပ်လျဉ်း၍အဆိုပြုမြေနေရာအားစိစစ်ရာ နှစ်ကွက်ပေါင်းမြေဧရိယာမှာ(၀.၆၅၅)ဧကဖြစ်ပြီး၊ ယင်းမြေကွက်ပေါ်တွင် (၈၀'x၁၂၀') နှင့် (၈၀'x၁၀၀')ရှိ နှစ်ထပ်အလုပ်ရုံ အဆောက်အဦ(၂)လုံး ဆောက်လုပ်ထားပြီး ပထမပုံရိပ်အထည်ထုပ်လုပ်မှုကုမ္ပဏီလီမိတက် မှ အထည်ချုပ်လုပ်ငန်းဆောင်ရွက်လျက်ရှိပါသည်။ (အဆိုပြုမြေကွက် နှင့် ပတ်ဝန်းကျင်အခြေအနေပြ မြေပုံကြမ်း ပူးတွဲတင်ပြထားပါသည်။)

၂။ အဆိုပါမြေကွက်နှင့်အဆောက်အဦများအားစက်မှုဂရန်မြေအမည်ပေါက်ဒေါ်ဖြူဖြူလှိုင်ထံမှ ပထမပုံရိပ်အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက် မှ ငှားရမ်းအသုံးပြုခြင်းဖြစ်ပြီး ၊ ငှားရမ်းစာချုပ်တွင် ဖော်ပြထားသော တစ်လငှားရမ်းခကျပ်( ၁၅ )သိန်းသည် ကာလဒေသပေါက်ဈေးအရ သင့်လျော်မှုရှိကြောင်း တွေ့ရှိရပါသည်။

၃။ သို့ပါ၍ ပထမပုံရိပ်အထည်ထုတ်လုပ်မှုကုမ္ပဏီလီမိတက် မှ လုပ်ငန်းဆောင်ရွက်မည့်မြေပေါ်အခြေအနေအား သိရှိနိုင်ပါရန် နှင့် ပတ်ဝန်းကျင်အနေအထားအရ အဆိုပြုမြေနေရာတွင် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည်ဟုယူဆပါကြောင်း ပြန်လည်တင်ပြအပ်ပါသည်။

၂၁/၁၂/၁၁

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ကျော်လွင်၊ ဒုတိယဝန်ကြီး

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ဆောက်လုပ်ရေးဝန်ကြီးဌာန

# မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

စာအမှတ်၊မအ/နဆစ/မဥက/၂၀၁၁(၆၈၄)
ရက်စွဲ၊၂၀၁၁ခုနှစ်၊ ဒီဇင်ဘာလ (၁၉)ရက်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ</u>

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉.၁၁.၂၀၁၁ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၁၉၀/၂၀၁၁(၁၂၈၀၁)
(၂) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ၁၇.၁၁.၂၀၁၁ ရက်စွဲပါစာအမှတ်၊၂၆/ ခွဲ-၃/၂၀၁၁(စီ ၈၈၉၇)

၁။ ပထမပုံရိပ်အထည်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်(First Image Garment Manufacturing Co., Ltd.)မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ မြောက်ဥက္ကလာပ စက်မှုဇုန်၊ ကျန်စစ်သားလမ်းနှင့်အမရာလမ်းထောင့်၊ မြေကွက်အမှတ်(၁၅)နှင့်(၁၆)ရှိ မြေနှစ်ကွက် ပေါင်းဧရိယာ(၀.၆၅၅)ဧကပေါ်တွင် CMP စနစ်ဖြင့် အဝတ်အထည်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြခြင်းနှင့်စပ်လျဉ်း၍ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှစိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါ စာများဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြုမြေနေရာအား စိစစ်ရာ နှစ်ကွက်ပေါင်းမြေဧရိယာမှာ (၀.၆၅၅)ဧက ဖြစ်ပြီး၊ ယင်းမြေကွက်ပေါ်တွင် (၈၀'x၁၂၀') နှင့် (၈၀'x၁၀၀')ရှိ နှစ်ထပ်အလုပ်ရုံအဆောက်အဦ(၂)လုံး ဆောက်လုပ်ထားပါသည်။ ပထမပုံရိပ်အထည်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ အထည်ချုပ်လုပ်ငန်း ဆောင်ရွက်လျက်ရှိပါသည်။ (အဆိုပြုမြေကွက်နှင့် ပတ်ဝန်းကျင်အခြေအနေပြ မြေပုံကြမ်းပူးတွဲတင်ပြ ထားပါသည်။)

၃။ အဆိုပါမြေကွက်နှင့်အဆောက်အဦများအားစက်မှုဇုန်မြေအမည်ပေါက်ဒေါ်ဖြူဖြူလှိုင် ထံမှ ပထမပုံရိပ်အထည်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ ငှားရမ်းအသုံးပြုခြင်းဖြစ်ပြီး၊ ငှားရမ်း စာချုပ်တွင် ဖော်ပြထားသော တစ်လငှားရမ်းခကျပ်(၁၅)သိန်းသည် ကာလဒေသပေါက်ဈေးအရ သင့်လျော်မှုရှိကြောင်း တွေ့ရှိရပါသည်။

၄။ သို့ပါ၍- ပထမပုံရိပ်အထည်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှလုပ်ငန်းဆောင်ရွက်မည့် မြေပေါ်အခြေအနေအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင်အနေအထားအရ အဆိုပြုမြေနေရာတွင် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း ပြန်လည်တင်ပြအပ်ပါသည်။

(အောင်ဝင်း)
ညွှန်ကြားရေးမှူးချုပ်

<u>ဝန်ကြီးရုံး</u>
<u>ဆောက်လုပ်ရေးဝန်ကြီးဌာန</u>

မိတ္တူကို-
- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး
- ရုံးလက်ခံ
- မျှောစာတွဲ

## မြောက်ဥက္ကလာပမြို့နယ်၊ မြောက်ဥက္ကလာပစက်မှုဇုန်၊ မြေကွက်အမှတ်- ၁၅ နှင့် ၁၆ ၏ တည်နေရာပြမြေပုံကြမ်း



ပထမပုံရိပ်အထည်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှလုပ်ငန်းဆောင်ရွက်နေသည့်မြေနေရာ(၀. ၆၅၅)ဧက

(၈၀'x၁၂၀')နှင့် (၈၀'x၁၀၀')စီရှိ နှစ်ထပ်အလုပ်ရုံအဆောက်အဦများ

မြေကွက်၏အလားအလာ

| | | |
|---|---|---|
| အရှေ့သို့လားသော် | - | ဘုရင့်နောင်လမ်း |
| အနောက်သို့လားသော် | - | ကျန်စစ်သားလမ်း |
| တောင်သို့လားသော် | - | အမရာလမ်း |
| မြောက်သို့လားသော် | - | မြေကွက်အမှတ်-၁၄(မြေကွက်လပ်) |

နောက်ဆက်တွဲ (ဂ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ



စာအမှတ်၊ ၃၄ - အလ / ခွဲ (၂) ၂၀၁၁( ၆၂၂ )
ရက်စွဲ ၊ ၂၀၁၁ ခုနှစ် ဒီဇင်ဘာလ ၂၀ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ **ပထမပုံရိပ်အထည်ထုပ်လုပ်မှုကုမ္ပဏီလီမိတက် (First Image Garment Manufacturing Co;Ltd) မှ အဆိုပြုတင်ပြထားသည့် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် အဆိုပြုချက်အပေါ် သဘောထားမှတ်ချက်ပေးပို့ခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉.၁၁.၂၀၁၁) ရက်စွဲပါစာအမှတ်၊ ၇က - ၆(က)/ မ - ၁၁၉၁ / ၂၀၁၁ (၁၂၈၀၃)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ အလုပ်ရုံနှင့် အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးဝင်းရှိန်၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ် ဦးမျိုးအောင်၊ မြန်မာနိုင်ငံအထည်ချုပ် လုပ်ငန်းရှင်များအသင်းမှ ရုံးအဖွဲ့မှူး ဦးခင်မောင်ဦး၊ အထည်ချုပ်စက်ရုံအမှတ် (၁၇) မှ စက်ရုံမှူး ဒေါ်လှသီတာ၊ အနောက်မရမ်းကုန်းအထည်စက်ရုံအမှတ် (၈) မှ စက်ရုံမှူး ဦးဟင်စိုးဟိုင်းဟို့ ပါဝင်သည့် အဖွဲ့သည် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ မြောက်ဥက္ကလာပစက်မှုဇုန်၊ ကျန်စစ်သားလမ်း နှင့် အမရာလမ်းထောင့်၊ မြေကွက်အမှတ် ၁၅/၁၆ ရှိ မြေကွက်နှစ်ကွက် (၀.၆၅၅) ဧက တွင် CMP စနစ်ဖြင့် ထုတ်လုပ်ရန် ဆောင်ရွက်မည့် ပထမပုံရိပ်အထည်ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်စက်ရုံသို့ (၁၅.၁၁.၂၀၁၁) ရက်နေ့နှင့် (၉.၁၂.၂၀၁၁) ရက်နေ့တွင် သွားရောက်စစ် ဆေးခဲ့ပါသည်။

၂။ First Image Garment စက်ရုံသည် (၁.၂.၂၀၀၈) မှစ၍ EC ချုပ်ဆိုပြီး အထည်ချုပ်လုပ်ငန်းကို တစ်ဆင့်ခံစနစ်ဖြင့် လူအင်အား ကျား (၇၀) ဦး၊ မ (၂၇၄) ဦး၊ ပေါင်း (၃၄၄) ဦးဖြင့် ဆောင်ရွက်နေပြီး စည်ပင်သာယာလိုင်စင်ကုမ္ပဏီမှတ်ပုံတင်လက်မှတ်(ယာယီ)၊ စက်မှု(၁) လိုင်စင်၊ မြန်မာနိုင်ငံအထည်ချုပ်လုပ်ငန်းရှင်များအသင်း အသင်းဝင်လက်မှတ်များရရှိထားပြီး ဖြစ်ပါသည်။

၃။ First Image Co, Ltd ၏အဆိုပြုချက်အား အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) **C.M.P ကုန်ကြမ်းလိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှုအချိုးအစားညီညွတ်မှုရှိ/မရှိ**

အဆိုပြုချက်ပါ ကုန်ကြမ်းလိုအပ်ချက်ဖော်ပြမှုတွင် အောက်ပါအတိုင်း ပါရှိပါသည် -

| | ချုပ်ထည် | တစ်ထည် လိုအပ်ချက် နှုန်းထား | ပုံမှန်လိုအပ်ချက် နှုန်းထားများ |
|---|---|---|---|
| 1. | Pant | 2 yds/pcs | 2.0-2.5 yds/pcs |
| 2. | Shirt | 1.5 yds/pcs | 1.5-2.5 yds/pcs |
| 3. | Skirt | 1.0 yds/pcs | 1.0-2.0 yds/pcs |

အဆိုပြုချက်ပါ တစ်နှစ်လုံးအတွက် ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည်လိုအပ်ချက်နှုန်း၊ တားမြစ်သတ်မှတ်စံနှုန်း ကိုက်ညီမှုရှိကြောင်း တွေ့ရှိရပါသည်။

(ခ) **C.M.P လက်ခနှုန်းထားများ တင်ပြမှု ဆီလျော်မှု ရှိ/မရှိ**

C.M.P အထည်များ၏ လက်ခနှုန်းထားများသည် ချုပ်ထည်၏ ပိတ်သားအမျိုးအစား ဒီဇိုင်းအမျိုးအစားနှင့် ချုပ်လုပ်သည့် ချုပ်ရိုးချုပ်သား ကောင်းမွန်မှုအပေါ်တွင်မူတည်၍ အနည်းငယ်ဈေးနှုန်း အနိမ့်အမြင့်ရှိသဖြင့် အဆိုပြုချက်ပါ C.M.P လက်ခနှုန်းထားများသည် လက်ရှိရရှိသည့် လက်ခနှုန်းထားများနှင့် ဆီလျော်မှုရှိကြောင်း တွေ့ရှိရပါသည် -

| | ချုပ်ထည် | အဆိုပြုချက်ပါ C.M.P လက်ခ နှုန်းထား | အထည်ချုပ်အသင်း၏ လက်ရှိ C.M.P လက်ခနှုန်းထား |
|---|---|---|---|
| 1. | Pant | 7.00 US$/DZ | 6-6.5 US$/Dz |
| 2. | Shirt | 6.00 US$/DZ | 5.5-6 US$/Dz |
| 3. | Skirt | 5.00 US$/DZ | 4-4.5 US$/Dz |

(ဂ) **နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အား အချိုးအစား ညီမျှမှု ရှိ/မရှိ**

နှစ်စဉ်ထုတ်လုပ်မှုအပိုင်းတွင် လက်ရှိ စက်လိုင်း (၃) လိုင်းသာရှိ၍ Sub-Contract ဆောင်ရွက်လျက်ရှိပြီး Buyer ၏လိုအပ်ချက်အရ တိုးမြှင့်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ စက်လိုင်း (၉)လိုင်း ထားရှိဆောင်ရွက်မည်ဆိုပါက ချုပ်ထည်တစ်မျိုးလျှင် (၃) လိုင်း ထားရှိဆောင်ရွက်နိုင်ပါသည် -

| | ချုပ်ထည် | တစ်ရက်ထုတ်လုပ်နိုင်မှု | တစ်လထုတ်လုပ်နိုင်မှု (၂၆) ရက် |
|---|---|---|---|
| 1. | Pants | 800 Pcs/10 hour | 20800 Pcs |
| 2. | Shirts | 1100 Pcs/10 hour | 28600 Pcs |
| 3. | Skirts | 1100 Pcs/10 hour | 28600 Pcs |

အဆိုပြုချက်ပါ တစ်နှစ်ထုတ်လုပ်ရမည့် အရေအတွက်ကို အဆိုပြုချက်ပါ စက်အရေအတွက်နှင့် စက်ရုံတွင်လက်ရှိ ကျား (၇၀) ဦး၊ မ (၂၇၄) ဦး စုစုပေါင်း (၃၄၄) ဦး လုပ်ကိုင်ဆောင်ရွက်လျက် ရှိခြင်းတို့ကြောင့် မဖြစ်မနေလုပ်သားအင်အား (၃၅၀) ဦးခန့်ဖြင့် ဖွင့်ခွင့်ပေးသင့်ပြီး Order ရလာသည်နှင့်(၅၅၀) ဦးအထိ တိုးချဲ့ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၄။ အထက်ပါစက်ရုံသည် ၂၀၀၈ ခုနှစ်မှစ၍ လုပ်ငန်းလည်ပတ် ဆောင်ရွက်လျက်ရှိပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက ပိုမိုတိုးချဲ့ဆောင်ရွက်နိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်စေသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြင့်သိန်း၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊ အလုပ်သမားဝန်ကြီးဌာန)

မိတ္တူကို -

- စက်မှုဝန်ကြီးဌာန
- CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ (အလုပ်သမားညွှန်ကြားရေးဦးစီးဌာန)
- CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ (အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန)
- ပထမပုံရိပ်အထည်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်
- ရုံးလက်ခံ
- မျှောစာတွဲ

နောက်ဆက်တွဲ (ဃ)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ
ကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
အမှတ်-၂၉၊ မင်းရဲကျော်စွာလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။
☎ : ၂၁၄၃၄၄/ ၂၁၄၃၄၅/ ၂၁၄၃၄၆/ ၂၁၄၃၄၇/ ၂၁၄၃၄၈/ ၂၁၄၃၄၉။ ဖက်စ် : ၉၅-၁-၂၁၄၄၈၄။


စာအမှတ်။ ဂ/၁/၁/(ဝန်ဆောင်)/၁၁-၁၃( [illegible] )
ရက်စွဲ ။ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာလ ၂၈ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၉-၁၁-၂၀၁၁ ရက်စွဲပါ စာအမှတ် ရက-၆(က)/မ-၁၁၉၁/၂၀၁၁( ၁၁၂၈၀၂)

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၃-၁၂-၂၀၁၁ ရက်စွဲပါ စာအမှတ် ရက-၆(က)/မ-၁၁၉၁/၂၀၁၁( ၁၆၂၄၁-ဂ)

၁။ ပထမပုံရိပ် (First Image Garment Manufacturing Co.,Ltd) မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ မြောက်ဥက္ကလာပစက်မှုဇုန်၊ကျန်စစ်သားလမ်းနှင့်အမရာလမ်းထောင့်၊ မြေကွက်အမှတ်(၁၅-၁၆) ၊ ရှိမြေကွက်နှစ်ကွက် (၀.၆၅၅) ဧက၊ တွင် CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ လျှောက်ထားခြင်းအပေါ် ရည်ညွှန်းစာဖြင့် ဤအသင်းချုပ် သို့ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မေတ္တာရပ်ခံ စာကိုရရှိပါ သည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ဤအသင်းချုပ်မှစိစစ်ခဲ့ရာ ပထမပုံရိပ် (First Image Garment Manufacturing Co.,Ltd) မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ မြောက်ဥက္ကလာပစက်မှုဇုန်၊ကျန်စစ်သားလမ်း မြေကွက် အမှတ်(၁၅-၁၆) ၊ရှိမြေကွက်နှစ်ကွက် တွင် CMPစနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်နေခြင်းမှာမှန်ကန်ပါကြောင်း မြောက်ဥက္ကလာပစက်မှုဇုန်စီမံခန့်ခွဲရေးကော်မတီ မှ ၆-၁၂-၂၀၁၁ ရက်စွဲပါ စာအမှတ်၊မဥ /စမဇ/ ထောက် /(၄၈၅) ထောက်ခံချက်နှင့်အတူ ပထမပုံရိပ် (First Image Garment Manufacturing Co.,Ltd) (မြန်မာကုမ္ပဏီ)နှင့် Winner Co. (Garments) (ဟောင်ကောင်)တို့ရေးထိုးထားသည့် MOA နှင့် Cmpany Profile စသည့် အထောက်အထားများကို တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ ပထမပုံရိပ် (First Image Garment Manufacturing Co.,Ltd) မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ မြောက်ဥက္ကလာပစက်မှုဇုန်၊ ကျန်စစ်သားလမ်းနှင့်အမရာလမ်းထောင့်၊မြေကွက် အမှတ်(၁၅-၁၆) ၊ ရှိမြေကွက်နှစ်ကွက် (၀.၆၅၅) ဧက၊ တွင် CMP စနစ်ဖြင့် အဝတ်အထည် အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ဤအသင်းချုပ်အနေဖြင့်ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။



၂၇-၁၂-၁၁

ဥက္ကဋ္ဌ( ကိုယ်စား)
(ဒေါက်တာမျိုးသက်၊အထွေထွေအတွင်းရေးမှူး )

ဒေါ်ဖြူဖြူလှိုင်

အငှားချထားသူ

နှင့်

ပထမ ပုံရိပ် အထည်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်

အငှားချထားခြင်းခံရသူ

တို့အကြား

ချုပ်ဆိုသည့်

မြေ နှင့် အဆောက်အဦး ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)